





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ်-ဧရာ-၀၀၃/၂၀၁၇ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးကျော်လင်းထွန်း

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်-၃၇၊ ဗိုလ်ဇင်ယော်လမ်း၊ (၁၀)ရပ်ကွက်၊ ဒဂုံမြို့သစ်(မြောက်ပိုင်း) မြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** MEF International Company Limited၊ အမှတ်-၃/၄၂၈၊ ၁၉/က ရပ်ကွက်၊ လှော်ကားလမ်း၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်မြို့

(၅) **ဖွဲ့စည်းရာအရပ်** မြန်မာနိုင်ငံ

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ကဏန်းပျော့ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်း (Production and Exportation of Soft Shell Crab)

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ကျောက်မှော်ကျေးရွာ၊ ကွင်းအမှတ်-၅၈၀၊ ကျောက်မှော်တောင်ကွင်း၊ ဦးပိုင်အမှတ်-၈/၁ ရှိမြေဧရိယာ (၃.၆၇၃) ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၀၀.၀၀ သန်း

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** -

(၁၂) **အတည်ပြုမိန့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** MEF INTERNATIONAL COMPANY LIMITED (အမ်အီးအက်(ဖ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)



ဥက္ကဋ္ဌ




ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ဧရက/အ-၀၀၈/မ(မွေး/ရေ)/ ၂၀၁၇(၁၃၈-၁)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာ လ ၂၉ ရက်

အကြောင်းအရာ။ **MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်) ၏ ရခိုင်နွန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့ ထုတ်လုပ်တင်ပို့ရောင်းချခြင်း လုပ်ငန်း အတည်ပြုမိန့် အပေါ် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ MEF International Company Limited ၏ ၂၇-၁၀-၂၀၁၇ ရက်စွဲ ပါ တင်ပြစာ

၁။ MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်) မှ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ကျောက်မော်ကျေးရွာ၊ ကွင်းအမှတ်-၅၈၀၊ ကျောက်မော်တောင်ကွင်း၊ ဦးပိုင်အမှတ်-၈/၁ ရှိမြေ ၃.၆၇၃ ဧကတွင် ရခိုင်နွန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကဏန်းပျော့ ထုတ်လုပ်တင်ပို့ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြခြင်းအား ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်)အား ကဏန်းပျော့ ထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် အတည်ပြုမိန့်အမှတ်၊ ဧရာ-၀၀၃/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့် အရ ကဏန်းပျော့ ထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ

၇၇(ခ)၊ (ဂ)၊ (ဃ) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထား သည့် အချက်များ နှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အတည်ပြုလျှောက်ထားလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ**အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန် ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်း ထုတ် ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစု ရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါ အသေးစိတ် များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဆ) MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ်

ကန့်သတ်

၄

လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ MEF International Company Limited (အမ်အီးအက်(ဖ်) အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန ၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(မန်းဂျော်နီ)
ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

**MEF International Company Limited (အမ်အီးအက်(ဖ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်)**

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန